ကုမ္ပဏီအမည် - Myat Noe Thu Company Limited

လုပ်ငန်း - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့် သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၁-၈-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်း စီစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၆-၈-၂၀၁၄ | ၁၀-၉-၂၀၁၄ | |
| | (ခ) စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ (ပထမအကြိမ်) | ၂၆-၈-၂၀၁၄ | | |
| | စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ (ဒုတိယ အကြိမ်) | ၁၁-၉-၂၀၁၄ | | |
| | စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ (တတိယ အကြိမ်) | ၇-၁၀-၂၀၁၄ | ၂၇-၁၀-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ပထမအကြိမ်) | ၂၆-၈-၂၀၁၄ | | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၁၁-၉-၂၀၁၄ | ၁၆-၉-၂၀၁၄ | |
| | (ဃ) စက်မှုဝန်ကြီးဌာန (ပထမအကြိမ်) | ၂၆-၈-၂၀၁၄ | | |
| | စက်မှုဝန်ကြီးဌာန (ဒုတိယ အကြိမ်) | ၁၁-၉-၂၀၁၄ | ၁၆-၉-၂၀၁၄ | |
| ၃ | PAT တင်ပြခြင်း | ၁-၉-၂၀၁၄<br>၃၄/၂၀၁၄ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၃-၉-၂၀၁၄ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၆-၉-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၁၇-၉-၂၀၁၄ | | တွက်ချက်မှုများပြန်လည်ပြင်ဆင်ခြင်းဖြစ်ပါသည်။ |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် (၈)စုံ ပေးပို့ခြင်း | ၃-၁၁-၂၀၁၄ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၇၅ ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Myat Noe Thu Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့် သစ်အချောထည်ပစ္စည်းများ<br>ထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | ကွင်းအမှတ်-၇၈၄ (လင်မလိုရွှေကူ) ကွင်း၊ ဦးပိုင်အမှတ် (၂)၊ တင်းတိပ်ကျေးရွာအုပ်စု၊ စစ်ကိုင်းမြို့နယ်၊ စစ်ကိုင်းခရိုင်၊ စစ်ကိုင်းတိုင်း ဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၄,၂၃၆.၇၄၂ သန်း |
| ရောင်းချမည့်စနစ် | ပြည်တွင်း၊ ပြည်ပ |
| လုပ်ငန်းသက်တမ်း | ကနဦး ၃၀ နှစ် |
| အရင်းကြေကာလ | ၈ နှစ် နှင့် ၅ လ |
| IRR | ၁၁.၉၁% |

အထက်ပါ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefitကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၁.၅၄၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၀၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၇၆.၇၄၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၂၉၉၅.၈၃၈ |
| ၅ | ဝင်ငွေခွန် | ၂၉၇၁.၃၈၅ | ၃၆၉၈.၄၃၆ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၂၄၆၅.၆၉၆ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁၅)ဦး |
| ၈ | CSR (၁%) | | ၁၁၀.၂၄၃ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၆၅၀ ဦး<br>ပြည်ပ ၄ ဦး<br>ပြည်တွင်းလုပ်သား (၆၅၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ် အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက် အကူပြုစေ ပါသည်။ |
| | | ၃၃၄၉.၆၇ | ၉၂၇၁.၃၈ |
| | Cost & Benefit | ၁ : ၃ | |

အကြောင်းအရာ။ **Myat Noe Thu Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့် သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myat Noe Thu Company Limited |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးကျော်စိုးလွင် (အဘ-ဦးကြည်လွင်) (မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သစ်ပါးလွှာ၊အထပ်သားနှင့် တန်ဖိုးမြင့်သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - စစ်ကိုင်းတိုင်းဒေသကြီး၊ စစ်ကိုင်းခရိုင်၊ စစ်ကိုင်းမြို့နယ်၊ တင်းတိပ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၂)၊ ကွင်းအမှတ်-၇၈၄၊ (လင်မလိုရွှေကူ) ကွင်း၊<br>- ၁၁.၀၃ ဧက |
| ၆။ | တည်ဆောက်မှုကာလ | -(၁)နှစ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၁၄,၂၃၆.၇၄သန်း** |

| | ကျပ် (သန်း) | US$ (သန်း) | ညီမျှသောကျပ်(သန်း) |
|---|---|---|---|
| - ငွေပမာဏ | ၉၉.၂၀ | | ၉၉.၂၀ |
| - အဆောက်အဦ | ၉,၇၁၁.၂၄ | | ၉,၇၁၁.၂၄ |
| - လျှပ်စစ်တပ်ဆင်ခြင်း | ၂၆၉.၈၆ | ၀.၂၁ | ၄၇၁.၄၆ |
| - စက်ပစ္စည်းကိရိယာများ | | ၄.၁၂ | ၃၉၅၄.၈၄ |
| စုစုပေါင်း | **၁၀,၀၈၀.၃၀** | **၄.၃၃** | **၁၄၂၃၆.၇၄** |

၈။ နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည့်ပမို့)

| စဉ် | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှုအရေအတွက် (ကုဗတန်) | ရောင်းဈေးနှုန်း (USD/ ကုဗတန်) |
|---|---|---|---|
| ၁ | သစ်ပါးလွှာအထူ ၀.၃မီလီမီတာ (၁၀၀%) | ၅,၆၅၂.၈၉ | ၁,၂၉၆.၀၀ |
| ၂ | အလယ်ခံအထူ ၁.၈မီလီမီတာ (၁၀၀)% | ၃,၇၆၈.၅၉ | ၇၀၂.၀၀ |

| စဉ် | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (ကုဗတန်) | ရောင်းဈေးနှုန်း (USD/ ကုဗတန်) |
|---|---|---|---|
| ၃ | အထပ်သား ၁၁.၅မမX ၈ပေX ၄ပေ (၆၅%) | ၅,၁၈၂.၂၆ | ၁,၅၇၃.၂၀ |
| ၄ | ကျွန်းကြမ်းခင်းတုံး (၅၀%) | ၃၇၆.၈၆ | ၄,၀၂၅.၀၀ |
| ၅ | ပြတင်း/တံခါးနှင့် ပရိဘောဂ (၅၀%) | ၇၇၃.၀၄ | ၄,၇၁၅.၀၀ |
| ၆ | အချောထည်သစ်မာ ခွဲသား(၂၃%) | ၁,၄၂၀.၄၇ | ၉၂၀.၀၀ |

၉။ နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်တွင်းရောင်း)

| စဉ် | ပစ္စည်း အမျိုးအစား | ရေ တွက်ပုံ | ထုတ်လုပ်မှု အရေ အတွက် | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| ၁ | အထပ်သား ၂.၇မမX၈ပေX ၄ပေ (၅%) | ချပ်ရေ | ၈၉,၁၆၇.၅၀ | ၇,၀၀၀.၀၀ |
| ၂ | အထပ်သား ၅ မမX၈ပေX ၄ပေ (၃၀%) | ချပ်ရေ | ၂၈၉,၂၂၈.၂၇ | ၁၂,၀၀၀.၀၀ |
| ၃ | သစ်မာခွဲသား (၇၇%) | ကုဗတန် | ၄,၇၃၄.၉၀ | ၅၅၀,၀၀၀.၀၀ |
| ၄ | ကျွန်းကြမ်း ခင်းတုံး(၅၀%) | ကုဗတန် | ၃၇၆.၈၆ | ၂,၅၀၀,၀၀၀.၀၀ |
| ၅ | ပြတင်း/တံခါး နှင့် ပရိဘောဂ (၅၀%) | ကုဗတန် | ၇၇၃.၀၄ | ၃,၅၀၀,၀၀၀.၀၀ |

၁၀။ ရောင်းချမည့် နည်းစနစ် - ပြည်တွင်း၊ ပြည်ပ

၁၁။ ကုမ္ပဏီ၏ (ဆဋ္ဌမမြောက်နှစ်)

ဝင်ငွေ - ကျပ် ၃၃,၉၅၆.၂၂၂ သန်း

အသုံးစရိတ် - ကျပ် ၃၂,၃၇၁.၁၇၇ သန်း

အသားတင်အမြတ် - ကျပ် ၁,၅၈၅.၀၄၅ သန်း

| | | |
|---|---|---|
| ၁၂။ | ဝန်ထမ်းအင်အား | - **(၆၅၄) ဦး** |
| | ပြည်တွင်း | - (၆၅၀) ဦး<br>(ပြည်တွင်းဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာကျပ်၁၀၀,၀၀၀ ဖြစ်၍ အမြင့်ဆုံးလစာမှာ ကျပ် ၃၅၀,၀၀၀ဖြစ်ပါသည်။ |
| | ပြည်ပ | - (၄) ဦး<br>(ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၈၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၁၃။ | အရင်းကြေကာလ | - ၈ နှစ် နှင့် ၅ လ |
| ၁၄။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၁.၉၁% |
| ၁၅။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆)နှစ်မြောက် | |
| | ဝင်ငွေခွန် | - ကျပ် ၅၂၈.၃၄၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၅၁၇.၃၄၆ သန်း |
| | CSR ( ၁% ) | - ကျပ် ၁၅.၈၅၀ သန်း |
| ၁၆။ | ငွေကြေးအထောက်အထား | - မြန်မာနိုင်ငံ၊ Ayeyarwady Bank Limited မှ ၂၀-၈-၂၀၁၄ နေ့တွင် Myat Noe Thu Company Limited သည် A/C No. 0031224010000780 ဖြင့် ငွေစာရင်း လက်ကျန် ၉၉,၆၁၈,၂၇၄.၆၇ ကျပ်ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံ၊ Myanma Foreign Trade Bank တွင် Myat Noe Thu Company Limited အမည်ဖြင့် ၃၀-၇-၂၀၁၄ နေ့ရှိ ငွေစာရင်းလက်ကျန် US$ ၁,၉၃၄,၀၈၄.၇၁ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။ |
| ၁၇။ | စိစစ်တင်ပြချက် | - Corporate Social Responsibility (CSR) အတွက် အသားတင် အမြတ်၏ ၁% ကို ဆောင်ရွက်သွားမည်ဟု တင်ပြထားပါသည်။<br>- မြေအသုံးပြုမှု ပုံစံ -၁၅ (က) တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - Environmental Management Plan (EMP) နှင့် Initial Environmental Examination (IEE) အစီအစဉ်များအား ပြည်တွင်းအဖွဲ့အစည်းဖြစ်သော National Engineering & Planning Servicesသို့ လုပ်ငန်းအပ်နှံကာ အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်ဟု တင်ပြထားပါသည်။<br>- Myat Noe Thu Company Limited ပိုင် ကျွန်းသစ်မာ စိုက်ပျိုးရေးလုပ်ငန်း ဆောင်ရွက်မှုစာရင်းကို တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ စက်ရုံတည်ဆောက်ရန် ခွင့်ပြုကြောင်း အကြောင်းကြားစာ တင်ပြထားပါသည်။<br>- ဒါရိုက်တာများ၏ မှတ်ပုံတင်မိတ္တူ၊ Myat Noe Thu Company Limited ၏ MOA, AOA၊ Form 6/26 မိတ္တူတို့ကို တင်ပြထားပါသည်။<br>- လုပ်ငန်းခွင် သာယာရေး၊ ဘေးအန္တရာယ်ကင်းရှင်းရေး၊ ဝန်ထမ်းသက်သာ ချောင်ချိရေး၊ ကျန်းမာရေးစောင့်ရှောက်မှု၊ မီးဘေးလုံခြုံရေး စီမံချက်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် လျှောက်ထားချက်တို့ကို တင်ပြထားပါသည်။<br>- စက်ရုံမှ မီးခိုးမည်းမထွက်စေရန် စီမံချက် ကို တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂/ န-၁၀၂ / ၂၀၁၄ ( ၈၁၅၉ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Myat Noe Thu Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့် သစ်အချောထည် ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Myat Noe Thu Company Limited သည် စစ်ကိုင်းတိုင်းဒေသကြီး၊ စစ်ကိုင်းခရိုင်၊ စစ်ကိုင်းမြို့နယ်၊ တင်းတိပ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၂)၊ ကွင်းအမှတ်- ၇၈၄ (လင်မလိုရွှေကူ) ကွင်းရှိ မြေအကျယ်(၁၁.၀၃)ဧကတွင် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့် သစ်အချောထည် ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်စိုးလွင် (အဘ-ဦးကြည်လွင်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၁၁.၀၃ ဧက ဖြစ်ပါသည်။ စစ်ကိုင်းတိုင်း ဒေသကြီး အစိုးရအဖွဲ့မှ လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ပုံစံ-၁၅ (က)အရ ထိုယာမြေအား သစ်အခြေခံစက်ရုံတည်ဆောက်ရန် ခွင့်ပြုထားသည့်စာ နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ စက်ရုံ တည်ဆောက်ရန် ခွင့်ပြုကြောင်း အကြောင်းကြားစာတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၁၄,၂၃၆.၇၄၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်းများ၊ လုပ်ငန်းသုံးယာဉ်များ အမေရိကန်ဒေါ်လာ ၄.၁၂ သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| | ကျပ် (သန်း) | US$ (သန်း) | ညီမျှသောကျပ်(သန်း) |
|---|---|---|---|
| ငွေပမာဏ | ၉၉.၂၀ | | ၉၉.၂၀ |
| အဆောက်အဦ | ၉,၇၁၁.၂၄ | | ၉,၇၁၁.၂၄ |
| လျှပ်စစ်တပ်ဆင်ခြင်း | ၂၆၉.၈၆ | ၀.၂၀ | ၄၇၁.၄၆ |
| စက်ပစ္စည်းကိရိယာများ | | ၄.၁၂ | ၃၉၅၄.၈၄ |
| **စုစုပေါင်း** | **၁၀,၀၈၀.၃၀** | **၄.၃၃** | **၁၄၂၃၆.၇၄** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၆၅၀) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၄) ဦး စုစုပေါင်း (၆၅၄) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း တစ်ဦး၏လစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်ပသို့ တင်ပို့၍ ပြည်တွင်း၌လည်း ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ပြည်ပသို့ တင်ပို့ရန်အတွက် ထုတ်လုပ်မှုနှင့်ရောင်းဈေး နှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (ကုဗတန်) | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|
| (က) | သစ်ပါးလွှာအထူ ၀.၃မီလီမီတာ (၁၀၀%) | ၅,၆၅၂.၈၉ | ၁,၂၉၆.၀၀ |
| (ခ) | အလယ်ခံအထူ ၁.၈မီလီမီတာ(၁၀၀%) | ၃,၇၆၈.၅၉ | ၇၀၂.၀၀ |
| (ဂ) | အထပ်သား ၁၁.၅မမ x ၈ပေ x ၄ပေ(၆၅%) | ၅,၁၈၂.၂၆ | ၁,၅၇၃.၂၀ |
| (ဃ) | ကျွန်းကြမ်းခင်းတုံး (၅၀%) | ၃၇၆.၈၆ | ၄,၀၂၅.၀၀ |
| (င) | ပြတင်း/တံခါးနှင့် ပရိဘောဂ (၅၀%) | ၇၇၃.၀၄ | ၄,၇၁၅.၀၀ |
| (စ) | အချောထည်သစ်မာခွဲသား (၂၃%) | ၁,၄၂၀.၄၇ | ၉၂၀.၀၀ |

၆။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ပြည်တွင်း၌ ရောင်းချရန်အတွက် ထုတ်လုပ်မှု နှင့်ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်။

| စဉ် | ပစ္စည်း အမျိုးအစား | ရေတွက်ပုံ | ထုတ်လုပ်မှု အရေအတွက် | ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | အထပ်သား ၂.၇မမx၈ပေx ၄ပေ (၅၀%) | ချပ်ရေ | ၈၉,၁၆၇.၅၀ | ၇,၀၀၀.၀၀ |
| (ခ) | အထပ်သား ၅ မမx၈ပေx ၄ပေ (၃၀%) | ချပ်ရေ | ၂၈၉,၂၂၈.၂၇ | ၁၂,၀၀၀.၀၀ |
| (ဂ) | သစ်မာခွဲသား (၇၇%) | ကုဗတန် | ၄,၇၃၄.၉၀ | ၅၅၀,၀၀၀.၀၀ |
| (ဃ) | ကျွန်းကြမ်း ခင်းတုံး(၅၀%) | ကုဗတန် | ၃၇၆.၈၆ | ၂,၅၀၀,၀၀၀.၀၀ |
| (င) | ပြတင်း/တံခါးနှင့် ပရိဘောဂ(၅၀%) | ကုဗတန် | ၇၇၃.၀၄ | ၃,၅၀၀,၀၀၀.၀၀ |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၃၃,၉၅၆.၂၂၂ သန်း

(ခ) အသုံး စရိတ် - ကျပ် ၃၂,၃၇၀.၀၇၇ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၁,၅၈၅.၀၄၅ သန်း

၈။ နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်။

(က) ကုန်သွယ်လုပ်ငန်းခွန်(၅%) ကျပ် ၅၀၇.၃၄၆သန်း

(ခ) ဝင်ငွေခွန် (၂၅%) ကျပ် ၅၂၈.၃၄၈ သန်း

၉။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈) နှစ် နှင့် (၅) လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး အမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၉၁) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ လက်ရှိ မျှော်မှန်း ရေးဆွဲထားသည့် မြို့ပြ စီမံကိန်းတွင် အနာဂတ်အတွက် လျာထားသည့် စစ်ကိုင်းစက်မှုဇုန် တည်ဆောက်မည့် မြေနေရာတွင် တည်ဆောက်မည်ဖြစ်သည့်အတွက် မြို့ပြစီမံကိန်းကို ထိခိုက်မှု မရှိကြောင်း၊ စက်ရုံလည်ပတ်ချိန်တွင် ဝန်ထမ်း (၆၅၀) ဦးအထိ ခန့်ထားဆောင်ရွက် ရမည့် လုပ်ငန်းဖြစ်သည့်အတွက် ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ မီးခိုးထုတ်လွှတ်မှု နည်းပါး ပြီး ရေဆိုးဖြစ်ထွန်းစေမှု မရှိခြင်း၊ မီးသတ်အဆောက်အဦး နှင့် ရေလှောင်ကန် တည်ဆောက်မည့် အစီအမံများပါရှိခြင်း တို့ကြောင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအရ ထိခိုက်မှုမရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများ ရေးဆွဲ ချမှတ် ခြင်း၊ လုပ်ငန်း လည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်း

ဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်း ဆောင်ရွက်ရန်၊ သစ်အခြေခံကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေနိုင်ရေး တို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) ဆောင်ရွက် ပြီး အစီရင်ခံစာ တင်ပြရန်၊ အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင် အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်နှင့် ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် သဘောထားပြန်ကြားထားပါသည်။ ကုမ္ပဏီမှ IEE နှင့် EMP အား ပြည်တွင်းရှိ အဖွဲ့အစည်းတစ်ခုဖြစ်သော National Engineering Services (NEPS) အဖွဲ့သို့ လုပ်ငန်းအပ်နှံကာ ရေးဆွဲတင်ပြမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ Ayeyarwady Bank Limited မှ ၂၀-၈-၂၀၁၄ နေ့တွင် Myat Noe Thu Company Limited အနေဖြင့် ငွေစာရင်း လက်ကျန် ၉၉,၆၁၈,၂၇၄.၆၇ ကျပ်ရှိကြောင်း၊ မြန်မာနိုင်ငံ၊ Myanma Foreign Trade Bank တွင် Myat Noe Thu Company Limited အမည်ဖြင့် ၃၀-၇-၂၀၁၄ နေ့ရှိ ငွေစာရင်းလက်ကျန် US$ ၁,၉၃၄,၀၈၄.၇၁ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကုမ္ပဏီသည် လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်း ကိရိယာများ၊ မီးဘေးကာကွယ်ရေး စီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်းမထွက်စေရန် စီမံချက်၊ လုပ်ငန်း သဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) Myat Noe Thu Company Limited သည် ၂၀၀၂ ခုနှစ် စက်တင်ဘာလ ၂၅ ရက်နေ့မှ စ၍ ဖွဲ့စည်းတည်ထောင်ထားပြီးဖြစ်ပါသည်။

(ခ) Myat Noe Thu Company Limited သည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ၂၀၁၁ ခုနှစ်မှ စ၍ ကုမ္ပဏီပိုင် ကျွန်းနှင့် သစ်မာစိုက်ပျိုးရေး လုပ်ငန်းများကို မန္တလေးတိုင်းဒေသကြီး၊ စစ်ကိုင်းတိုင်း ဒေသကြီးနှင့် ပဲခူးတိုင်းဒေသကြီးတို့၌ စိုက်ပျိုးဆောင်ရွက်လျက်ရှိကြောင်း တင်ပြ ထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထား လျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Myat Noe Thu Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဖြင့် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့် သစ်အချောထည် ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ။

ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

၁၂

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့

မှတ်ပုံ 42 / 27/10

စာအမှတ်၊ ၂/ ၃ - ၁၂၄ (၁၀၇၃) / ဦး ၆

ရက်စွဲ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၂၅ ရက်

သို့

✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
အမှတ်(၁)၊သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်မှုကော်မရှင်၊ရန်ကုန်မြို့၏ ၂၆. ၇. ၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၂/မ-၂၀၀/၂၀၁၄(၀၀၅၃)

၁။ Myat Noe Thu Co.,Ltd သည် စစ်ကိုင်းမြို့နယ်၊ တင်းတိပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၇၈၄(လင်မလိုရွှေကူ)ကွင်း၊ ဦးပိုင်အမှတ်(၂)ရှိ မြေအကျယ်(၁၁. ၀၃)ဧကတွင် သစ်ပါးလွှာ၊ အထပ်သား နှင့် တန်ဖိုးမြင့် သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်စိုးလွင်(အဘ-ဦးကြည်လွင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာ၍ စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘော ထားပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ (၁၇. ၁၀. ၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၏ Cabinet အစည်းအဝေး(၃၁/၂၀၁၄)ဆုံးဖြတ်ချက်(၁၀)အရ အောက်ပါအတိုင်း သဘောထား ပြန်ကြားအပ်ပါသည်-

(က) လက်ရှိမျှော်မှန်းရေးဆွဲထားသည့် မြို့ပြစီမံကိန်းတွင် အနာဂတ်အတွက် လျာထား သည့် စစ်ကိုင်းစက်မှုဇုန်တည်ဆောက်မည့် မြေနေရာတွင် တည်ဆောက်မည် ဖြစ်သည့်အတွက် မြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊

(ခ) စက်ရုံလည်ပတ်ချိန်တွင် ဝန်ထမ်း(၆၅၀)ဦးအထိ ခန့်ထားဆောင်ရွက်ရမည့် လုပ်ငန်းဖြစ်သည့်အတွက် ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်ကြောင်း၊

(ဂ) မီးခိုးထုတ်လွှတ်မှုနည်းပါးပြီး ရေဆိုးဖြစ်ထွန်းစေမှုမရှိခြင်း၊ မီးသတ်အဆောက်အဦးနှင့် ရေလှောင်ကန်တည်ဆောက်မည့် အစီအမံများ ပါရှိခြင်းတို့ကြောင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိမ်းသိမ်းရေးအရ ထိခိုက်မှုမရှိကြောင်း၊

( သာအေး )
ဝန်ကြီးချုပ်

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

၁၉၁ ၈၃/၁၆၁၇

စာအမှတ် ၂/၂၂၀(ခ)(၆)/(၆၉၁၁ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊ဩဂုတ်လ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တင်ပြခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆ - ၈ - ၂၀၁၄ရက်စွဲပါစာအမှတ် ရက-၂/မ-၂၀၁/၂၀၁၄(၀၀၅၄)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Myat Noe Thu Company Limited သည် ကွင်းအမှတ်- ၇၈၄ (လင်မလိုရွှေကူ) ကွင်း ၊ ဦးပိုင်အမှတ် (၂) ၊ တင်းတိမ်ကျေးရွာအုပ်စု၊ စစ်ကိုင်း မြို့နယ်၊ စစ်ကိုင်းခရိုင်၊ စစ်ကိုင်းတိုင်းဒေသကြီးရှိ မြေအကျယ် (၁၀.၀၃) ဧကတွင် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့် သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း နှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် တည်ဆောက်ရေးကာလမှာ (၁)နှစ်ဖြစ်၍ ရင်းနှီးမြှုပ်နှံမှု ကာလမှာ (၃၀) နှစ်ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးအတွက် စက်ရုံစီမံကိန်း ရှိသည့် နေရာအသီးသီးတွင် သန့်စင်ခန်းများထားရှိခြင်း ၊ သောက်ရေ သုံးရေများကိုလည်း အလုံ အလောက် အသုံးပြုစေခြင်း၊ လေဝင်လေထွက်ကောင်းမွန်စေခြင်း၊ အမှိုက်စွန့်ပစ်ရန်နေရာ သတ်မှတ် ပေးထားခြင်း ၊ အမှိုက်စွန့်ပစ်ရန် နေရာသတ်မှတ်ပေးထားခြင်း၊ ရေနုတ်မြောင်း များကို ရေစီးရေလာ ကောင်းမွန်အောင် ဆောင်ရွက်ထားရှိခြင်း အစရှိသဖြင့် ပတ်ဝန်းကျင် ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan ) ကိုလည်း ချမှတ် အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်ဟု ဝန်ခံကတိပြုထားကြောင်း ၊ မီးဘေးလုံခြုံရေး စီမံချက်များအား ဖော်ပြထားကြောင်း ၊ လူမှုရေးဆိုင်ရာ တာဝန်ခံမှုနှင့် သက်ဆိုင်သည့်လုပ်ငန်း

များအတွက် ရရှိလာသော အသားတင်အမြတ် ငွေ၏(၁%)အား အသုံးပြုမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ အထပ်သားကဲ့သို့ တန်ဖိုးမြင့် သစ်အခြေခံကုန်ပစ္စည်း ထုတ်လုပ်ခြင်း လုပ်ငန်းတွင် ဓါတုဗေဒ ပစ္စည်းများအား သုံးစွဲရန်လိုအပ်မည် ဖြစ်ပါသဖြင့် အဆိုပါ ကုန်ကြမ်းပစ္စည်းများ သိုလှောင်ခြင်း ၊ သုံးစွဲခြင်း ၊ လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်း နှင့် စွန့်ပစ်အရည်များ ၊ သစ်အမှုန် အမွှားများ၊ အနံ့ အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေ ညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှ ထွက်ရှိလာသည့်ဆူညံသံများကြောင့် အသံညစ်ညမ်းမှုနှင့် စက်ရုံဧရိယာအနီး ပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေး ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု များ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်၍ သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့်သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) ကုန်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းများရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းနှင့်ထုတ်လုပ်ခြင်း အဆင့်ဆင့် တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး ၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) သစ်အခြေခံ ကုန်ပစ္စည်းများထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination - IEE) ဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာအရ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့်၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

၁၉၈၁-34/၆/၄

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၄-၂၀၁၅ (၂၅၉၂)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၁၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၈.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၂/မ-၂၀၀/၂၀၁၄ (၀၀၅၅)

၁။ Myat Noe Thu Co.,Ltd. သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စစ်ကိုင်းတိုင်းဒေသကြီး၊ စစ်ကိုင်းခရိုင်၊ စစ်ကိုင်းမြို့နယ်၊ တင်းတိပ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၂)၊ ကွင်းအမှတ်-၇၈၄ (လင်မလိုရွှေကူ)ကွင်းတွင် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့်သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့်သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Myat Noe Thu Co.,Ltd. မှ သစ်ပါးလွှာ၊ အထပ်သားနှင့် တန်ဖိုးမြင့်သစ်အချောထည်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်

**ကန့်သတ်**



တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၂.၆.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန